(မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-......၁၃၇...../၂၀၀၂။ ၂၀၀၂ ခုနှစ်၊ မတ် လ ၁၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦး ချစ်ဖေ (ခ) ဦး စောဂျက်......

(ခ) အဘအမည် ......ဦး ပြား......

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၆/ဘပန(နိုင်)၀၁၆၃၀၀၇......

(ဃ) နေရပ်လိပ်စာ ......အမှတ်(၃၃)၊ သံသုမ၁(၂)လမ်း၊ ရန်ကုန်သစ် သင်္ဃန်းကျွန်း မြို့နယ်၊ ရန်ကုန်မြို့။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......အဏ္ဏဝါစိုး ကုမ္ပဏီလီမိတက် (Annawar Soe Co., Ltd.)......

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......ငါး၊ ပုစွန်ပြုပြင် အေးခဲထုတ်လုပ်သည့် တန်(၁၅၀)ကျအေး ခန်းစက်ရုံနှင့်တန်(၅၀)ကျ ရေခဲစက်ရုံလုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ......တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ်၊ မသေကျေးရွာအုပ်စု၊ကွင်းအမှတ်(၂၅) အိုအက်စ်အက်စ် (မသေကြေးတိုင်ပြင်ကွင်း)......

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ......၃၂၉.၂၀ သန်း ( ကျပ်သုံးရာနှစ်ဆယ့်ကိုးသန်းနှစ်သိန်းတိတိ )......

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၂/၂၀၀၂ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၃ ခုနှစ်၊ တပေါင်းလဆန်း ၅ ရက်
(၂၀၀၂ ခုနှစ်၊ မတ်လ ၂၈ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော အဏ္ဏဝါစိုး ကုမ္ပဏီ လီမိတက် (Annawar Soe Co., Ltd.) သည် တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ်၊ မသေကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၅) အိုအက်စ်အက်စ် (မသေကြေးတိုင်ပြင်ကွင်း) ရှိ လန (၃၉) မြေ (၂.၂၉)ကေ (၉၂၆၇.၃၁ စတုရန်းမီတာ)ပေါ်တွင် ငါး၊ ပုစွန်ပြုပြင် အေးခဲထုတ်လုပ်သည့် တန် (၁၅၀)ကျ အအေးခန်းစက်ရုံနှင့် တန်(၅၀)ကျ ရေခဲစက်ရုံလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၄-၂-၂၀၀၂)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး(၂၁-၂-၂၀၀၂)နေ့တွင် ကျင်းပ ပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၂) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေး သဘောတူညီချက်အရ (၇-၃-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၀/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အဏ္ဏဝါစိုး ကုမ္ပဏီ လီမိတက် (Annawar Soe Co., Ltd.) အား ငါး၊ ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်သည့် တန်(၁၅၀)ကျအအေးခန်းစက်ရုံနှင့် တန်(၅၀)ကျရေခဲစက်ရုံလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၅၃၈/၂၀၀၂ ကို ထုတ်ပေးလိုက်သည်။

၂။ အဏ္ဏဝါစိုး ကုမ္ပဏီ လီမိတက် (Annawar Soe Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်ခံစား နိုင်ရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည် ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ (တစ်)နှစ် အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ် ခွင့်(သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍

အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

၃။ အဏ္ဏဝါစိုး ကုမ္ပဏီ လီမိတက် (Annawar Soe Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ အဏ္ဏဝါစိုး ကုမ္ပဏီ လီမိတက် (Annawar Soe Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၇။ အဏ္ဏဝါစိုး ကုမ္ပဏီ လီမိတက် (Annawar Soe Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ပတ်ဝန်းကျင် အန္တရာယ်များ ဖြစ်ပေါ်စေပြီး၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ပါက စက်ရုံကိုပိတ်သည်အထိ အရေးယူခြင်းခံရမည်။

၈။ အဏ္ဏဝါစိုး ကုမ္ပဏီ လီမိတက် (Annawar Soe Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများ ဖြင့် (၆)လတစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန် ပေးပို့အစီရင်ခံရမည်။

၉။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၁။ အဏ္ဏဝါစိုး ကုမ္ပဏီ လီမိတက် (Annawar Soe Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်

များကိုလိုက်နာဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့် ကိုပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက–၁/မ–၇၇၆/၂၀၀၁ ( ၁၀ ၀၂၈–၈ )

ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ မတ်လ ၂၈ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ကာကွယ်ရေးဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေးဌာနချုပ်ရုံး၊ (ပြည်တွင်းထောက်လှမ်းရေးဌာန)။

၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၆။ အလုပ်သမား ဝန်ကြီးဌာန။

၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၀။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၁။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။

၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။

၂၃။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၂၄။ အုပ်ချုပ်မှု ဒါရိုက်တာ၊ အဏ္ဏဝါစိုး ကုမ္ပဏီ လီမိတက် (Annawar Soe Co., Ltd.)။